ပုံစံ(၂)

စာအမှတ် ၉၄၈၇

နေ့စွဲ ၁၃.၁၂.၉၉

# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်

## ခွင့်ပြုမိန့်

ခွင့်ပြုမိန့်အမှတ် မနသ – ၃၁၀/၉၉ ၁၉၉၉ ခုနှစ်၊ ဒီဇင်ဘာ လ ၁၃ ရက်။

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၀ အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) ရင်းနှီးမြှုပ်နှံသူ၏အမည် ဦးမြင့်ဦး (ခ) ချန်ရင်ဟုတ်

(ခ) အဘအမည် ဦးချန်သွီအိမ်

(ဂ) နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ် ၁၂/လသန(နိုင်)၀၀၁၂၃၉

(ဃ) နေရပ်လိပ်စာ အမှတ်(၈၄)၊ ၁၈လမ်း ၊ လသာမြို့နယ်၊ ရန်ကုန်မြို့။

(င) ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့် အဖွဲ့အစည်း သီဟရာဇာ ကုမ္ပဏီလီမိတက်
( Thiha Yarzar Co., Ltd)

(စ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လုပ်ငန်းအမျိုးအစား သန့်ရှင်း လက်ဆတ်ပြီး အဆီ ဓါတ်နည်း ပါး သော စား သုံး ဆီထုတ်လုပ်ခြင်း လုပ်ငန်း

(ဆ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် အရပ်ဒေသ(များ) မြေကွက်အမှတ်(၁၂/၁၃) လှိုင်သာယာစက်မှုဇုန်(၁)၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်း

(ဇ) မတည်ငွေရင်းပမာဏ(ကျပ်) (၁၁၁.၆၀)သန်း (ကျပ်တစ်ရာတစ်ဆယ့် တစ်သန်း ၊ ခြောက်သိန်းခန့်)

(signature)

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
အမိန့် ကြော်ငြာစာအမှတ်၊ ၁၀၈/၉၉ (မနသ)
ရန်ကုန်မြို့၊ ၁၃၆၁ ခုနှစ်၊ နတ်တော်လဆန်း ၆ ရက်။
(၁၉၉၉ ခုနှစ်၊ ဒီဇင်ဘာလ ၁၃ ရက်)

၁။ မြန်မာကုမ္ပဏီဖြစ်သော သီဟရာဇာ ကုမ္ပဏီ လီမိတက် (Thiha Yarzar Co., Ltd.) အမည်ဖြင့် အသုံးပြုခွင့် ရရှိထားသော မြို့ရွာနှင့် အိုးအိမ်ဖွံ့ဖြိုးရေး ဦးစီးဌာနပိုင် ရန်ကုန်တိုင်း၊ လှိုင်သာယာ မြို့နယ်၊ လှိုင်သာယာစက်မှုဇုန်(၁)၊ မြေကွက်အမှတ် ၁၂/၁၃၊ ရှိမြေ (၁.၁၉)ဧက (၄၈၁၅.၇၆ စတုရန်း မီတာ)တွင် စက်ရုံ တည်ဆောက်ပြီး နိုင်ငံတကာ အဆင့်မီ သန့်ရှင်း လတ်ဆတ်သော စားသုံးဆီများ ထုတ်လုပ်ခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြု တင်ပြ ချက်အား (၁-၁၀-၉၉)နေ့တွင် ကျင်းပပြုလုပ်ခဲ့သည့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၁၇/၉၉) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။ ကော်မရှင်မှ မူအားဖြင့် သဘောတူညီခဲ့ပြီး၊ အစိုးရအဖွဲ့သို့ ဆက်လက်တင်ပြရန် ဆုံးဖြတ်ချက်နှင့်အညီ (၁၈-၁၁-၉၉)နေ့တွင် ကျင်းပပြုလုပ်သည့် ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရအဖွဲ့၏ (၄၁/၉၉) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ရာ အစည်းအဝေးမှ သဘောတူကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း (၅)၊ ပုဒ်မ ၁၀ အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျက် သီဟရာဇာ ကုမ္ပဏီ လီမိတက် (Thiha Yarzar Co., Ltd.) အား နိုင်ငံတကာ အဆင့်မီ သန့်ရှင်းလတ်ဆတ်သော စားသုံးဆီများ ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်နိုင်ရန် အတွက်ခွင့်ပြုမိန့် အမှတ်၊ မနသ-၃၁၀/၉၉ ကို ထုတ်ပေး လိုက်သည်။

၂။ သီဟရာဇာ ကုမ္ပဏီ လီမိတက် (Thiha Yarzar Co., Ltd.) အနေဖြင့် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှု လုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၇)၊ ပုဒ်မ ၁၂ အရ ထုတ်လုပ်မှု လုပ်ငန်းစတင်သော နှစ်အပါအဝင် တစ်ဆက်တည်း (၃) နှစ် အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် နှင့် ဥပဒေ ပုဒ်မ ၁၃ ပါ ပြဋ္ဌာန်းချက်များနှင့်အညီ အောက်ဖော်ပြပါ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုနိုင်ရန် ဤအမိန့် ကြော်ငြာစာကို ထုတ်ပြန်လိုက်သည်။

(က) ဥပဒေပုဒ်မ ၁၃(ဂ)အရ ထုတ်လုပ်မှု လုပ်ငန်းကြောင့် သတ်မှတ်သည့် နှုန်းအထိ ပြည်တွင်း ပြည်ပ ဝင်ငွေတိုးတက်မှု ရှိပါက သတ်မှတ်ချက် နှင့် အညီ ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့်ကာလ ကုန်ဆုံးပြီးသည့်အခါ လုပ်ငန်း အကောင် အထည်ဖော် ဆောင်ရွက်နိုင်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြ လျှောက်ထားရမည်။

(ခ) ဥပဒေပုဒ်မ ၁၃(စ)အရ လုပ်ငန်းမှ ရရှိသည့် အမြတ်ငွေကို သီးသန့် ရန်ပုံငွေထား၍ တစ်နှစ်အတွင်း လုပ်ငန်း၌ ပြန်လည် ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေအပေါ်တွင် ဝင်ငွေခွန် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် ကာလ ကုန်ဆုံးပြီး၍ အမှန်တကယ် ပြန်လည် ရင်းနှီးမြှုပ်နှံမှုပြုသည့်အခါ လုပ်ငန်း အမှန်တကယ် အကောင်အထည် ဖော်နိုင်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြ လျှောက်ထားရမည်။

(ဂ) ဥပဒေပုဒ်မ ၁၃(ဆ)အရ လုပ်ငန်းသုံး မတည်ပစ္စည်းများ အပေါ် တန်ဖိုးလျော့ငွေ ကို သတ်မှတ်သည့် နှုန်းအတိုင်း နှစ်တိုတို နှင့် မူလတန်ဖိုး ပြည့်မီသည်အထိ အမြတ်ငွေမှ နုတ်ပယ်ခွင့် နှင့် စပ်လျဉ်း၍ ယင်းတန်ဖိုးလျော့ နှုန်းထားများကို ဤကော်မရှင်သို့ တင်ပြ လျှောက်ထားရမည်။

(ဃ) ဥပဒေပုဒ်မ ၁၃(ဇ)အရ ကနဦး ရင်းနှီးမြှုပ်နှံမှု ကာလအတွင်း ပြည်တွင်း၌ မရရှိနိုင်သည့် အမှန်တကယ် လိုအပ်၍ ပြည်ပမှတင်သွင်းသော စက်ပစ္စည်း၊ စက်အရန်ပစ္စည်း၊ စက်ကိရိယာ အစိတ်အပိုင်း၊ လုပ်ငန်းသုံး ပစ္စည်းများအပေါ် အကောက်ခွန် နှင့် အခြား ပြည်တွင်း အခွန် အကောက်များကို ကင်းလွတ်ခွင့်ပြုသည်။

၃။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၃(ဇ) နှင့် (ဈ) အရ ပြည်ပမှ တင်သွင်းသည့် စက်ပစ္စည်းများ၊ စက်အရန်ပစ္စည်းများ၊ လုပ်ငန်းသုံးပစ္စည်းများနှင့် ပတ်သက်၍ အောက်ပါ အတိုင်း လိုက်နာ ဆောင်ရွက်ရမည်။

(က) ပြည်ပမှတင်သွင်းမည့် ပစ္စည်းများအတွက် နိုင်ငံခြားငွေ ရရှိပုံနည်းလမ်း (Source of Payments for Import) ဥပမာ – ပြည်ပတင်ပို့မှု မှ ဝင်ငွေ၊ ပြည်တွင်း ပြည်ပချေးငွေ (Loan and Credits)၊ ကုန်ပစ္စည်း ပြန်လည် ဝယ်ယူသည့်စံနစ် (Buy-back System)၊ ရွှေ့ဆိုင်း ငွေပေးချေစနစ် (Deferred Payment System)စသည်တို့ကို ဖော်ပြရန်။

(ခ) တင်သွင်းမည့် ပစ္စည်းအမျိုးအစား၊ အရည်အသွေး၊ စံချိန်စံညွှန်းများ၊ ဈေးနှုန်းများ သင့်မြတ်မှု စသည်တို့နှင့် စပ်လျဉ်း၍ နိုင်ငံတကာ အသိအမှတ်ပြုထားသည့် စစ်ဆေးရေးကိုယ်စားလှယ် (Inspection Agency) ၏ စစ်ဆေးမှုဖြင့် ဆောင်ရွက်ရန်။

(ဂ) စစ်ဆေးရေး ကိုယ်စားလှယ်၏ စစ်ဆေးပြီးကြောင်း အထောက်အထား (Inspection Certificate) ဖြင့် တင်သွင်းမည့် ပစ္စည်းအမျိုးအစား စာရင်း (Invoice and Packing List) များကို နိုင်ငံခြား မတည်ငွေရင်း တန်ဖိုး သတ်မှတ်ရေးအဖွဲ့ငယ်သို့ တင်ပြ၍ ထောက်ခံချက် ရယူရန်။

၄။ အဆိုပြုလုပ်ငန်းအတွက် ပြည်ပမှတင်သွင်းမည့် စက်ပစ္စည်းများ၊ စက်အရန်ပစ္စည်းများ၊ လုပ်ငန်းသုံး ပစ္စည်းများသည် အသုံးမပြုရသေးသော ပစ္စည်းအသစ်များ ဖြစ်ရမည်။

၅။ သီဟရာဇာ ကုမ္ပဏီ လီမိတက် (Thiha Yarzar Co., Ltd.) သည် ဤခွင့်ပြုမိန့်အရ လုပ်ငန်း ဆောင်ရွက်ရာတွင် မူလအဆိုပြုလွှာ၌ ဖော်ပြထားသည့် <u>ထုတ်လုပ်မှု ရည်မှန်းချက်များကို အနိမ့်ဆုံး ရည်မှန်းချက်</u> အဖြစ် ထားရှိဆောင်ရွက် အကောင်အထည် ဖော်ရမည်။

၆။ သီဟရာဇာ ကုမ္ပဏီ လီမိတက် (Thiha Yarzar Co., Ltd.) မှ ထုတ်လုပ်သည့် ဆီများကို ဖြန့်ဖြူး ရောင်းချခြင်း မပြုမီ၊ ကျန်းမာရေး ဝန်ကြီးဌာန၊ မြန်မာနိုင်ငံ အစားအသောက်နှင့် ဆေးဝါးအာဏာပိုင်အဖွဲ့၏ စစ်ဆေးမှုကို ခံယူရမည်။

၇။ သီဟရာဇာ ကုမ္ပဏီ လီမိတက် (Thiha Yarzar Co., Ltd.) သည် ဤအဆိုပြု လုပ်ငန်း၏ စာရင်းများကို သီးခြားပြုစုထားရှိရမည်။

၈။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြေအသုံးပြုမှု နှင့် စပ်လျဉ်း၍ နိုင်ငံတော် အစိုးရမှ မြေယာ နှင့် ပတ်သက်၍ သတ်မှတ် ပြဋ္ဌာန်းမည့် စည်းကမ်းသတ်မှတ်ချက်များကို တိကျစွာ လိုက်နာဆောင်ရွက်ရမည်။

၉။ သီဟရာဇာ ကုမ္ပဏီ လီမိတက် (Thiha Yarzar Co., Ltd.) မှ နိုင်ငံခြားသား ကျွမ်းကျင်သူများ ငှားရမ်းခွင့် ကိစ္စနှင့် စပ်လျဉ်း၍ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေဆိုင်ရာ လုပ်ထုံးလုပ်နည်းများ အခန်း(၉)၊ အပိုဒ် ၃၃ပါ သတ်မှတ်ချက်များနှင့်အညီ ဤကော်မရှင်သို့ သီးခြား တင်ပြလျှောက်ထားရမည်။

၁၀။ အဆိုပြု လုပ်ငန်းဆောင်ရွက်ရန်အတွက် ပြည်တွင်းအလုပ်သမားများ ခန့်ထားရာတွင် အလုပ်သမား ဝန်ကြီးဌာန၊ အလုပ်သမား ညွှန်ကြားရေး ဦးစီးဌာန နှင့် ညှိနှိုင်းဆောင်ရွက်ရမည်။

၁၁။ သီဟရာဇာ ကုမ္ပဏီ လီမိတက် (Thiha Yarzar Co., Ltd.) သည် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှုလုပ်ငန်း ဆောင်ရွက်ရာ၌ ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှု၊ မီးဘေးအန္တရာယ် စသည်များ၊ မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် ပတ်ဝန်းကျင် ညစ်ညမ်းမှု ထိန်းသိမ်းကာကွယ်ရေး အစီအမံများကို ဝန်ခံကတိပြုထားသည့်အတိုင်း စံနစ်တကျ ထားရှိ ဆောင်ရွက်ရမည်။ ယင်းသို့ ဆောင်ရွက်ထားရှိမှု အခြေအနေကို ဤကော်မရှင်သို့ မပျက်မကွက် အစီရင်ခံ ရမည်။

၁၂။ သီဟရာဇာ ကုမ္ပဏီ လီမိတက် (Thiha Yarzar Co., Ltd.) သည် ပူးတွဲပါ ကနဦးလုပ်ငန်း ဆောင်ရွက်မှု အစီရင်ခံစာကို ဤခွင့်ပြုမိန့်ရရှိပြီး ၃(သုံး)လအတွင်း ဤကော်မရှင်သို့ မပျက်မကွက် အစီရင်ခံရမည်။

၁၃။ အဆိုပြု လုပ်ငန်းစတင်ဆောင်ရွက်သည့် နေ့ရက်ကို ဤကော်မရှင်သို့ မပျက်မကွက် အစီရင်ခံရမည်။

၁၄။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့် နေ့မှစ၍ တစ်နှစ်အတွင်း အဆိုပြုလုပ်ငန်း စတင် ဆောင်ရွက်ခြင်း မပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီးဖြစ်သည်ဟု မှတ်ယူရမည်။

အ မိန့် အ ရ –

(ဗိုလ်မှူးချုပ် မောင်မောင် )
အတွင်းရေးမှူး

စာအမှတ်၊ ရက–၁/မ–၄၃၉/၉၉ ( ၉ ၄ ၁ ၇ )
ရက်စွဲ၊ ၁၉၉၉ ခုနှစ်၊ ဒီဇင်ဘာလ ၁ ၃ ရက်။

ဖြန့်ဝေခြင်း–
၁။ နိုင်ငံတော် အေးချမ်းသာယာရေး နှင့် ဖွံ့ဖြိုးရေး ကောင်စီ ဥက္ကဋ္ဌရုံး။
၂။ နိုင်ငံတော် အေးချမ်းသာယာရေး နှင့် ဖွံ့ဖြိုးရေး ကောင်စီ ရုံး။
၃။ အစိုးရအဖွဲ့ရုံး။
၄။ စစ်မဟာဗျူဟာ လေ့လာရေးရုံး၊ ကာကွယ်ရေး ဝန်ကြီးဌာန။
၅။ အမှတ်(၁)စက်မှုဝန်ကြီးဌာန။

၆။ အမျိုးသား စီမံကိန်း နှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန။
၇။ အလုပ်သမား ဝန်ကြီးဌာန။
၈။ ကျန်းမာရေး ဝန်ကြီးဌာန။
၉။ စီးပွားရေး နှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန။
၁၀။ ဆက်သွယ်ရေး၊ စာတိုက် နှင့် ကြေးနန်း ဝန်ကြီးဌာန။
၁၁။ ဘဏ္ဍာရေး နှင့် အခွန်ဝန်ကြီးဌာန။
၁၂။ လူဝင်မှု ကြီးကြပ်ရေး နှင့် ပြည်သူ့အင်အား ဝန်ကြီးဌာန။
၁၃။ လျှပ်စစ်စွမ်းအား ဝန်ကြီးဌာန။
၁၄။ ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံတော် ဗဟိုဘဏ်။
၁၅။ ဥက္ကဋ္ဌ၊ နိုင်ငံခြားမတည်ငွေရင်းတန်ဖိုး သတ်မှတ်ရေး အဖွဲ့ငယ်။ (ညွှန်ကြားရေးမှူးချုပ်၊ ဗဟိုစက်ပစ္စည်း စာရင်းအင်း နှင့် စစ်ဆေးရေး ဦးစီးဌာန။)
၁၆။ ညွှန်ကြားရေးမှူးချုပ်၊ စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေး ဦးစီးဌာန။
၁၇။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ ဆေးဝါးနှင့် အိမ်သုံးပစ္စည်း လုပ်ငန်း။
၁၈။ ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှု နှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန။
၁၉။ ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမား ညွှန်ကြားရေး ဦးစီးဌာန။
၂၀။ ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံ အစားအသောက်နှင့် ဆေးဝါးအာဏာပိုင်အဖွဲ့။
၂၁။ ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန။
၂၂။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ ဆက်သွယ်ရေး လုပ်ငန်း။
၂၃။ ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန။
၂၄။ ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်း အခွန်များ ဦးစီးဌာန။
၂၅။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ အာမခံ လုပ်ငန်း။
၂၆။ ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှု ကြီးကြပ်ရေး နှင့် အမျိုးသား မှတ်ပုံတင်ရေး ဦးစီးဌာန။
၂၇။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ လျှပ်စစ်ဓါတ်အား လုပ်ငန်း။
၂၈။ ညွှန်ကြားရေးမှူးချုပ်၊ မြို့ရွာနှင့် အိုးအိမ်ဖွံ့ဖြိုးရေး ဦးစီးဌာန။
၂၉။ ဥက္ကဋ္ဌ၊ ပြည်ထောင်စု မြန်မာနိုင်ငံ ကုန်သည်များ နှင့် စက်မှုလက်မှုလုပ်ငန်းရှင်များ အသင်းချုပ်။
၃၀။ အုပ်ချုပ်မှု ဒါရိုက်တာ၊ သီဟရာဇာ ကုမ္ပဏီ လီမိတက် (Thiha Yarzar Co., Ltd.)။

အမိန့်အရ –

( မောင်မောင်ရီ )
တွဲဖက်အတွင်းရေးမှူး

27/EE MIC salient point



လုပ်ငန်း စီမံကိန်း အဆိုပြုချက်၏ အဓိကအချက်များ

(မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအရ)

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည် | - သီဟရာဇာ ကုမ္ပဏီလီမိတက် (Thiha Yarzar Co., Ltd.)<br>(မြန်မာကုမ္ပဏီ (၂၆-၁၁-၉၀ တွင်မှတ်ပုံတင်ပြီး) |
| ၂။ | လုပ်ငန်းအဆိုပြုသူအမည် | - ဦးချန်ရင်ဟုတ် (ခ) ဦးမြင့်ဦး |
| ၃။ | အဆိုပြုလုပ်ငန်းအမျိုးအစား | - နိုင်ငံတကာအဆင့်မီသန့်ရှင်းလတ်ဆတ် သောစားသုံးဆီများထုတ်လုပ်ခြင်း လုပ်ငန်း ။ |
| ၄။ | တည်နေရာ | - မြေကွက်အမှတ် - ၁၂၊ ၁၃၊ လှိုင်သာယာ စက်မှုဇုန် (၁)၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်မြို့။ |
| ၅။ | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | -<u>ကျပ် (၁၁၁.၆၀) သန်း</u>(US$ ၀.၅၈ သန်းအပါအဝင်) |
| | - ငွေပမာဏ | -ကျပ် ၁၆.၈၉ သန်း |
| | - ကုန်ကြမ်းပစ္စည်း | -ကျပ် ၅၂.၈၀ သန်း |
| | - အဆောက်အဦ | -ကျပ် ၂၀.၄၆ သန်း |
| | - မြေ | -ကျပ် ၁၀.၀၀ သန်း |
| | - စက်ပစ္စည်းကိရိယာ | -ကျပ် ၁.၉၁ သန်း ( US$ ၀.၃၂ သန်း ) |
| | - ဆောက်လုပ်ရေးပစ္စည်း | -ကျပ် ၁.၅၄ သန်း ( US$ ၀.၂၆ သန်း ) |
| ၆။ | မြေအကြောင်းအရာ | |
| | - မြေအကျယ်အဝန်း | - ၁.၁၉ ဧက ( ၄၀၁၅.၇၆ စတုရန်းမီတာ ) |
| | - မြေပိုင်ဆိုင်မှု | - သီဟရာဇာ ကုမ္ပဏီလီမိတက်အမည်ဖြင့်အသုံးပြုခွင့်ရရှိထားသော မြို့ပြနှင့်အိုးအိမ်ဖွံ့ဖြိုးရေး ဦးစီးဌာနမှချပေးထားသော မြေ။<br>( မြေကိုမတည်ငွေအဖြစ်ထည့်ဝင်ထားပါသည်။ ) |
| | - မြေအမျိုးအစား | - စက်မှုမြေ |
| ၇။ | ထုတ်လုပ်မှု ( ပုံမှန်နှစ် ) | Ton |
| | - မြေပဲဆီ | ၁၃၀၀ |
| | - နှမ်းဆီ | ၁၀၀၀ |
| | - နှမ်းဖတ်/ပဲဖတ် | ၂၀၀၀ |

| | | |
|---|---|---|
| ၈။ | ရောင်း ချမည့်နည်း စနစ် | |
| | - ပြည်တွင်း | - ၁၀၀ % |
| ၉။ | ရောင်း ဈေးနှုန်း ( ပုံမှန်နှစ် ) | (Ks,000)/Ton |
| | - မြေပဲဆီ | - ၄၃၂ |
| | - နှမ်းဆီ | - ၂၆၆ |
| | - နှမ်းဖတ် / ပဲဖတ် | - ၂၉ |
| ၁၀။ | ဝင်ငွေ ( ပုံမှန်နှစ် ) | |
| | - ကျပ်ငွေဖြင့် | - ကျပ် ၉၄၀.၄၄ သန်း |
| ၁၁။ | အသားတင်အမြတ် | |
| | - ကျပ်ငွေဖြင့် | - ကျပ် ၁၀.၆၂ သန်း |
| ၁၂။ | နိုင်ငံတော်မှ ပုံမှန်နှစ်တွင်ရရှိမည့် အကျိုးအမြတ် | |
| | - ဝင်ငွေခွန် ( ကျပ်ငွေဖြင့် ) | - ကျပ် ၇.၉၀ သန်း |
| ၁၃။ | အရင်းကြေကာလ | - ( ၄ ) နှစ်နှင့် ( ၉ ) လ |
| ၁၄။ | အရင်းအနှီးအပေါ် အကျိုးအမြတ်ပြန်ပေါ်နှုန်း ( IRR ) | - ( ၁၅.၉၄ ) ရာခိုင်နှုန်း |
| ၁၅။ | ဝန်ထမ်းအင်အား | - ၇၈ ဦး |
| | - ပြည်ပ | ၄ ဦး |
| | - ပြည်တွင်း | ၇၄ ဦး |
| ၁၆။ | တည်ဆောက်မည့်ကာလ | ( ၁၁ ) လ |
| ၁၇။ | အခြား | - စက်ပစ္စည်းနှင့် ဆောက်လုပ်ရေးပစ္စည်းများကို တရုတ်ပြည်သူ့သမ္မတနိုင်ငံ China National Machinery & Equipment Import & Export Corporation - မှ ကုမ္ပဏီပိုင်နိုင်ငံခြားငွေဖြင့် ဝယ်ယူမည်ဖြစ်ပါသည်။<br>- အမှတ် ( ၁ ) စက်မှုဝန်ကြီးဌာနသို့ သဘောထားမှတ်ချက်တောင်းခံရာ အဆင့်မီရန် စနစ်တကျဆောက်လုပ်နည်းဆိုင်ရာကတိကဝတ်ရန်မရှိကြောင်းနှင့် ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေအရ မှတ်ပုံတင်ဆောင်ရွက် |

နေခြင်း မရှိသေး ပါကြောင်း ပြန်ကြား လာပါသည်။

- မြို့ရွာနှင့်အိုး အိမ်ဖွံ့ဖြိုး ရေး ဦး ဝိး ဌာနမှ လက်ရှိလုပ်ငန်း ဆောင်ရွက် နေခြင်း မရှိပါကြောင်း သဘောထား မှတ်ချက်ပြန်ကြား လာပါသည်။
- ဝက်ပစ္စည်း စာရင်း ကိုပူး တွဲတင်ပြထား ပါသည်။
- ယင်းလုပ်ငန်းအတွက်လိုအပ် သောကုန်ကြမ်း ပစ္စည်း များကိုပြည်တွင်း မှ ပင် ဝယ်ယူမည်ဖြစ်ပါသည်။
- ယင်းလုပ်ငန်းသည်မြန်မာနိုင်ငံသား များ သာ ပိုင်ဆိုင်ပြီး နိုင်ငံခြားမှ မည်သူမျှပိုင်ဆိုင်မှုမရှိကြောင်း၊ မြေယာနှင့်ပတ်သက်၍ သတ်မှတ်ပြဋ္ဌာန်း မည့် ဝန်းကမ်းသတ်မှတ်ချက် များကိုလိုက်နာမည်ဖြစ်ကြောင်း၊ ပတ်ဝန်း ကျင်ညစ်ညမ်း မှုမဖြစ်ပွား စေရန်နှင့်မိုး ဘေး အန္တရာယ်များ အတွက်ကြိုတင်ကာကွယ်မှုများ ပြုလုပ်ထား မည်ဖြစ်ကြောင်း ၊ ပြည်ပမှ စက်ပစ္စည်း များ ကို ငွေလွှဲပို့စနစ်ဖြင့် ဝယ်ယူမည်ဖြစ် ကြောင်း၊ ထွက်ကုန်ပစ္စည်း များ ကို ကိုယ်ပိုင်အမှတ်တံဆိပ်ဖြင့်ဖြန့်ဖြူးသွား မည်ဖြစ်ကြောင်း၊ လုပ်ငန်းအသစ်ဖြစ် ကြောင်းဝန်ခံကတိပြုထား ပါသည်။
- ငွေ ကြေး ဆိုင်ရာအ ထောက်အထား အဖြစ်သိဟရာဟာကုမ္ပဏီလီမိတက်၏မြန်မာ့ရင်းနှီးမြှုပ်နှံမှုနှင့်ကူးသန်းရောင်းဝယ် ရေးဘဏ်ရှိဘဏ်လက်ကျန်ငွေရင်းကိုတင်ပြထား ပါသည်။
- ပူးတွဲပါဥပဒေပုဒ်မ ၁၂နှင့်၁၃ အရအခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့်သက်သာခွင့်များ ကို ခံစား ခွင့်ပြုရန် လျှောက်ထား လာပါသည်။



မာ* ၂၀၉၉၉

# ပြည်ထောင်စု မြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

စာအမှတ်၊ ရက-၁/ မ-၁၀၃၈/ ၉၉ (၆၄၇၁ )။
ရက်စွဲ၊ ၁၉၉၉ ခုနှစ်၊ နိုဝင်ဘာလ ၁၁ ရက်။

<u>ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရအဖွဲ့သို့</u>
<u>တင်ပြသည့်အမှာစာ</u>

အကြောင်းအရာ။ <u>သီဟရာဇာ ကုမ္ပဏီ လီမိတက် မှ နိုင်ငံတကာအ ဆင့်မီ သန့်ရှင်းလတ်ဆတ်သော စားသုံးဆီများ ထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ရန် အဆိုပြု တင်ပြခြင်း ကိစ္စ။</u>

၁။ မြန်မာကုမ္ပဏီဖြစ်သော သီဟရာဇာ ကုမ္ပဏီ လီမိတက် (Thiha Yarzar Co., Ltd.) မှ နိုင်ငံတကာ အဆင့်မီ သန့်ရှင်းလတ်ဆတ်သောစားသုံးဆီများထုတ်လုပ်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဆောင်ရွက်ရန် အဆိုပြုတင်ပြလာပါသည်။ ယင်းအဆိုပြုချက်ကို (၁-၁၀-၉၉)နေ့တွင် ကျင်းပ ပြုလုပ်ခဲ့သည့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၁၇/၉၉)ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ ပါသည်။ ယင်းအစည်းအဝေးမှ လုပ်ငန်း ဆောင်ရွက်ရန် မူအားဖြင့် သဘောတူပြီး၊ ကုန်သွယ်မှု မူဝါဒ ကောင်စီသို့ ဆက်လက် တင်ပြရန် ဆုံးဖြတ်ခဲ့ပါသည်။ ယင်းဆုံးဖြတ်ချက်အရ (၃-၁၁-၉၉) နေ့တွင် ကျင်းပပြုလုပ်ခဲ့သည့် ကုန်သွယ်မှု မူဝါဒကောင်စီ၏ (၁၃/၉၉) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ရာ မူအားဖြင့် သဘောတူပြီး အစိုးရအဖွဲ့သို့ ဆက်လက်တင်ပြရန် ဆုံးဖြတ်ချက်အရ တင်ပြခြင်းဖြစ်ပါသည်။ အဆိုပြုချက် ကို <u>နောက်ဆက်တွဲ(၁)</u> အဖြစ် ပေးပို့ထားပါသည်။

၂။ ယင်းလုပ်ငန်း၏ မတည်ငွေရင်း ပမာဏမှာ အမေရိကန်ဒေါ်လာ (၀.၅၈)သန်း အပါအဝင် စုစုပေါင်း ကျပ် (၁၁၁.၆၀)သန်း ဖြစ်ပါသည်။ ယင်းတွင် ငွေသားကျပ် (၁၆.၈၉)သန်း၊ ကုန်ကြမ်းပစ္စည်း တန်ဖိုးကျပ် (၅၂.၈၀)သန်း၊ အဆောက်အဦတန်ဖိုးကျပ် (၂၈.၄၆)သန်း၊ မြေတန်ဖိုးကျပ် (၁၀.၀၀)သန်း၊ စက်ပစ္စည်း ကိရိယာ တန်ဖိုးကျပ် (၁.၉၁)သန်း {အမေရိကန်ဒေါ်လာ (၀.၃၂)သန်း}နှင့် ဆောက်လုပ်ရေး ပစ္စည်း တန်ဖိုး ကျပ်(၁.၅၄)သန်း {အမေရိကန်ဒေါ်လာ(၀.၂၆)သန်း} ထည့်ဝင်ရင်းနှီးမည် ဖြစ်ပါသည်။ စက်ပစ္စည်းနှင့် ဆောက်လုပ်ရေး ပစ္စည်းများကို တရုတ်ပြည်သူ့ သမ္မတနိုင်ငံ China National Machinery & Equipment Import & Export Corporation မှ ကုမ္ပဏီပိုင် နိုင်ငံခြားငွေဖြင့် ဝယ်ယူမည် ဖြစ်ပါသည်။

၃။ ယင်းလုပ်ငန်းကို ဆောင်ရွက်ရန် အတွက် မြို့ရွာနှင့် အိုးအိမ် ဖွံ့ဖြိုးရေး ဦးစီးဌာန ထံမှ သီဟရာဇာ ကုမ္ပဏီ လီမိတက် အမည်ဖြင့် အသုံးပြုခွင့် ရရှိထားသော မြေကွက်အမှတ် ၁၂/၁၃၊ လှိုင်သာယာ စက်မှုဇုန်(၁)၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်းရှိမြေ (၁.၁၉)ဧက (၄၈၁၅.၇၆ စတုရန်းမီတာ)ပေါ်တွင် စက်ရုံ တည် ဆောက်ပြီး စားသုံးဆီ ထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်မည် ဖြစ်ပါသည်။

၄။ ထုတ်လုပ်မည့်စားသုံးဆီများအားလုံးကို ပြည်တွင်း၌ပင် ရောင်းချမည် ဖြစ်ပါသည်။ ယင်းလုပ်ငန်း၏ ပုံမှန်နှစ်တွင် ထုတ်လုပ်မှုနှင့် ရောင်းဈေးနှုန်း များမှာ အောက်ပါအတိုင်း ဖြစ်ပါသည်–

| စဉ် | အမျိုးအမည် | ထုတ်လုပ်မှု (Ton) | ရောင်းဈေးနှုန်း (Ks 000/Ton) |
|---|---|---|---|
| ၁။ | မြေပဲဆီ | ၃၃၀၀ | ၄၃၂ |
| ၂။ | နှမ်းဆီ | ၁၀၀၀ | ၂၆၆ |
| ၃။ | နှမ်းဖတ်/ ပဲဖတ် | ၂၀၀၀ | ၂၆ |

၅။ ယင်းလုပ်ငန်းအတွက် လိုအပ်သော ကုန်ကြမ်းများကို ပြည်တွင်းမှပင် ဝယ်ယူမည် ဖြစ်ပါသည်။

၆။ ယင်းလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ်တွင် ရရှိမည့် ဝင်ငွေနှင့် အသုံးစရိတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်းဖြစ်ပါသည်–

| | | (ကျပ်သန်း) |
|---|---|---|
| (က) | ဝင်ငွေ | ၆၄၁.၄၄ |
| (ခ) | အသုံးစရိတ် | ၆၂၂.၈၂ |
| (ဂ) | အသားတင်အမြတ် | ၁၈.၆၂ |

၇။ ယင်းလုပ်ငန်း၏ အရင်းကြေကာလမှာ (၄)နှစ်နှင့် (၉)လဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) မှာ (၁၅.၉၄)ရာခိုင်နှုန်း ဖြစ်ပါသည်။

၈။ ယင်းလုပ်ငန်းကိုဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ ပုံမှန်နှစ်တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်–

(က) ဝင်ငွေခွန် ကျပ် ၇.၉၈ သန်း

၉။ ယင်းလုပ်ငန်းကို ဆောင်ရွက်ရန်အတွက် ပြည်တွင်းမှ ဝန်ထမ်း (၇၄)ဦး နှင့် ပြည်ပမှ ဝန်ထမ်း (၄)ဦး ခန့်ထား ဆောင်ရွက်မည် ဖြစ်ပါသည်။

၁၀။ ယင်းလုပ်ငန်းအတွက် အမှတ်(၁)စက်မှုဝန်ကြီးဌာနသို့ သဘောထားမှတ်ချက် တောင်းခံရာ စားသုံးဆီ အဆင့်မီရန် စနစ်တကျ ထုတ်လုပ်မည်ဆိုပါက ကန့်ကွက်ရန် မရှိကြောင်းနှင့် ပုဂ္ဂလိက စက်မှုလုပ်ငန်း ဥပဒေအရ မှတ်ပုံတင်ဆောင်ရွက်နေခြင်း မရှိသေးပါကြောင်း အကြောင်း ပြန်ကြားလာပါသည်။

၁၁။ ယင်းလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာပိုင်ဆိုင်ပြီး နိုင်ငံခြားမှ မည်သူမျှ ပိုင်ဆိုင်မှု မရှိကြောင်း၊ မြေယာနှင့်ပတ်သက်၍ နိုင်ငံတော်မှ သတ်မှတ်ပြဋ္ဌာန်းမည့် စည်းကမ်းသတ်မှတ်ချက်များကို လိုက်နာမည် ဖြစ်ကြောင်း၊ ပတ်ဝန်းကျင် ညစ်ညမ်းမှု မဖြစ်ပွားစေရန် နှင့် မီးဘေးကြိုတင် ကာကွယ်မှုများ ပြုလုပ်ထားမည် ဖြစ်ကြောင်း၊ ပြည်ပမှစက်ပစ္စည်းများကို ငွေလွှဲပို့စနစ်ဖြင့် ဝယ်ယူမည်ဖြစ်ကြောင်း၊ ထွက်ကုန် ပစ္စည်းများကို ကိုယ်ပိုင် အမှတ်တံဆိပ်ဖြင့် ဖြန့်ဖြူးသွားမည်ဖြစ်ကြောင်း၊ လုပ်ငန်းအသစ်ဖြစ်ကြောင်း၊ ဝန်ခံကတိ ပြုထားပါသည်။

၁၂။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၂ နှင့် ၁၃ ပါ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရန် လျှောက်ထားလာပါသည်။ ဥပဒေပုဒ်မ ၁၂ အရ စီးပွားရေးလုပ်ငန်း စတင်သောနှစ်အပါအဝင် တစ်ဆက်တည်း (၃)နှစ် အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် ပေးရမည် ဖြစ်ပါသည်။ ဥပဒေပုဒ်မ ၁၃ အရ အခွန်ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များအနက် လုပ်ငန်းနှင့် သက်ဆိုင်သည့် အခွန်ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရန် ကော်မရှင်မှ ညှိနှိုင်း ဆုံးဖြတ်ခဲ့ ပါသည်။

၁၃။ ဆုံးဖြတ်ရန်အချက်။

(က) သီဟရာဇာ ကုမ္ပဏီ လီမိတက်မှ နိုင်ငံတကာအဆင့်မီ သန့်ရှင်းလတ်ဆတ်သော စားသုံးဆီများ ထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ရန် အဆိုပြု တင်ပြခြင်းကို ခွင့်ပြုရန် သဘောတူ–မတူ။

(ခ) လုပ်ငန်းဆောင်ရွက်ခွင့်ပြုရန် သဘောတူပါက မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၁၂ နှင့် ၁၃ ပါ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရန် သဘောတူ–မတူ။

၁၄။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် ၏ ထောက်ခံချက်။

အစိုးရအဖွဲ့၏ ဆုံးဖြတ်ချက်ကို နာခံအပ်ပါသည်။

( ဗိုလ်မှူးချုပ်မောင်မောင် )
ဝန်ကြီး
နိုင်ငံတော်အေးချမ်းသာယာရေး နှင့် ဖွံ့ဖြိုးရေး ကောင်စီဥက္ကဋ္ဌရုံး
နှင့်
အတွင်းရေးမှူး
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်။

ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရအဖွဲ့။

# ပြည်ထောင်စု မြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

စာအမှတ်၊ ရကာ-၁/ မ-၁၀၃၈/ ၉၉ (၁၉၀၆)။
ရက်စွဲ၊ ၁၉၉၉ ခုနှစ်၊ အောက်တိုဘာလ ၁၅ ရက်။

ကုန်သွယ်မှု မူဝါဒ ကောင်စီသို့ တင်ပြသည့်
အမှာစာ

အကြောင်းအရာ။ သီဟရာဇာ ကုမ္ပဏီ လီမိတက် မှ နိုင်ငံတကာအဆင့်မီ သန့်ရှင်းလတ်ဆတ်သော စားသုံးဆီများ ထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ရန် အဆိုပြု တင်ပြခြင်း ကိစ္စ။

၁။ မြန်မာကုမ္ပဏီဖြစ်သော သီဟရာဇာ ကုမ္ပဏီ လီမိတက် (Thiha Yarzar Co., Ltd.) မှ နိုင်ငံတကာ အဆင့်မီ သန့်ရှင်းလတ်ဆတ်သောစားသုံးဆီများထုတ်လုပ်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဆောင်ရွက်ရန် အဆိုပြုတင်ပြလာပါသည်။ ယင်းအဆိုပြုချက်ကို (၁-၁၀-၉၉)နေ့တွင် ကျင်းပ ပြုလုပ်ခဲ့သည့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၁၇/၉၉)ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ ပါသည်။ ယင်းအစည်းအဝေးမှ လုပ်ငန်း ဆောင်ရွက်ရန် မူအားဖြင့် သဘောတူပြီး၊ ကုန်သွယ်မှု မူဝါဒ ကောင်စီသို့ ဆက်လက် တင်ပြရန် ဆုံးဖြတ်ချက်အရ တင်ပြခြင်း ဖြစ်ပါသည်။ အဆိုပြုချက် ကို နောက်ဆက်တွဲ(၁) အဖြစ် တင်ပြထားပါသည်။

၂။ ယင်းလုပ်ငန်း၏ မတည်ငွေရင်း ပမာဏမှာ အမေရိကန်ဒေါ်လာ (၀.၅၈)သန်း အပါအဝင် ကျပ် (၁၁၁.၆၀)သန်း ဖြစ်ပါသည်။ ယင်းတွင် ငွေသားကျပ် (၁၆.၈၉)သန်း၊ ကုန်ကြမ်းပစ္စည်း တန်ဖိုးကျပ် (၅၂.၈၀)သန်း၊ အဆောက်အဦတန်ဖိုးကျပ် (၂၈.၄၆)သန်း၊ မြေတန်ဖိုးကျပ် (၁၀.၀၀)သန်း၊ စက်ပစ္စည်း ကိရိယာ တန်ဖိုးကျပ် (၁.၉၁)သန်း {အမေရိကန်ဒေါ်လာ (၀.၃၂)သန်း}နှင့် ဆောက်လုပ်ရေး ပစ္စည်း တန်ဖိုး ကျပ်(၁.၅၄)သန်း {အမေရိကန်ဒေါ်လာ(၀.၂၆)သန်း} ထည့်ဝင်ရင်းနှီးမည် ဖြစ်ပါသည်။ စက်ပစ္စည်းနှင့် ဆောက်လုပ်ရေး ပစ္စည်းများကို တရုတ်ပြည်သူ့ သမ္မတနိုင်ငံ China National Machinery & Equipment Import & Export Corporation မှ ကုမ္ပဏီပိုင် နိုင်ငံခြားငွေဖြင့် ဝယ်ယူမည် ဖြစ်ပါသည်။

၃။ ယင်းလုပ်ငန်းကို ဆောင်ရွက်ရန် အတွက် သီဟရာဇာ ကုမ္ပဏီ လီမိတက် အမည်ဖြင့် အသုံးပြုခွင့် ရရှိထားသော မြို့ရွာနှင့် အိုးအိမ်ဖွံ့ဖြိုးရေး ဦးစီးဌာနပိုင် မြေကွက်အမှတ် ၁၂/၁၃၊ လှိုင်သာယာစက်မှုဇုန်(၁) လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်းရှိမြေ (၁.၁၉)ဧက (၄၈၁၅.၇၆ စတုရန်းမီတာ)ပေါ်တွင် စက်ရုံ တည်ဆောက်ပြီး စားသုံးဆီ ထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်မည် ဖြစ်ပါသည်။

၄။ ထုတ်လုပ်မည့်စားသုံးဆီများအားလုံးကို ပြည်တွင်း၌ပင် ရောင်းချမည် ဖြစ်ပါသည်။ ယင်းလုပ်ငန်း၏ ပုံမှန်နှစ်တွင် ထုတ်လုပ်မှုနှင့် ရောင်းဈေးနှုန်း များမှာ အောက်ပါအတိုင်း ဖြစ်ပါသည်–

| စဉ် | အမျိုးအမည် | ထုတ်လုပ်မှု (Ton) | ရောင်းဈေးနှုန်း (Ks 000/Ton) |
|---|---|---|---|
| ၁။ | မြေပဲဆီ | ၁၃၈၀ | ၄၃၂ |
| ၂။ | နှမ်းဆီ | ၁၀၀၀ | ၂၆၆ |
| ၃။ | နှမ်းဖတ်/ ပဲဖတ် | ၂၀၀၀ | ၂၆ |

၅။ ယင်းလုပ်ငန်းအတွက် လိုအပ်သော ကုန်ကြမ်းများကို ပြည်တွင်းမှပင် ဝယ်ယူမည် ဖြစ်ပါသည်။

၆။ ယင်းလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ်တွင် ရရှိမည့် ဝင်ငွေနှင့် အသုံးစရိတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်းဖြစ်ပါသည်–

| | | (ကျပ်သန်း) စုစုပေါင်း |
|---|---|---|
| (က) | ဝင်ငွေ | ၉၄၁.၄၄ |
| (ခ) | အသုံးစရိတ် | ၉၂၂.၈၂ |
| (ဂ) | အသားတင်အမြတ် | ၁၈.၆၂ |

၇။ ယင်းလုပ်ငန်း၏ အရင်းကြေကာလမှာ (၄)နှစ်နှင့် (၉)လဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) မှာ (၁၅.၉၄)ရာခိုင်နှုန်း ဖြစ်ပါသည်။

၈။ ယင်းလုပ်ငန်းကိုဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ ပုံမှန်နှစ်တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်–

(က) ဝင်ငွေခွန် ကျပ် ၇.၉၈ သန်း

၉။ ယင်းလုပ်ငန်းကို ဆောင်ရွက်ရန်အတွက် ပြည်တွင်းမှ ဝန်ထမ်း (၇၄)ဦး နှင့် ပြည်ပမှ ဝန်ထမ်း (၄)ဦး ခန့်ထား ဆောင်ရွက်မည် ဖြစ်ပါသည်။

၁၀။ ယင်းလုပ်ငန်းအတွက် အမှတ်(၁)စက်မှုဝန်ကြီးဌာနသို့ သဘောထားမှတ်ချက် တောင်းခံရာ စားသုံးဆီ အဆင့်မီရန် စနစ်တကျ ထုတ်လုပ်မည်ဆိုပါက ကန့်ကွက်ရန် မရှိကြောင်းနှင့် ပုဂ္ဂလိက စက်မှုလုပ်ငန်း ဥပဒေအရ မှတ်ပုံတင်ဆောင်ရွက်နေခြင်း မရှိသေးပါကြောင်း အကြောင်း ပြန်ကြားလာပါသည်။

၁၁။ ယင်းလုပ်ငန်းအတွက် မော်တော်ယာဉ်တင်သွင်းခွင့်နှင့်ပတ်သက်၍ တည်ဆောက်ရေးကာလအတွင်း Wagon (တစ်)စီးကို အခွန်အကောက် ကင်းလွတ်ခွင့်ဖြင့်လည်းကောင်း၊ လုပ်ငန်းစတင် ဆောင်ရွက်ချိန်တွင် Truck (တစ်)စီးကို အခွန်အကောက်(၅၀)ရာခိုင်နှုန်း သက်သာခွင့်ဖြင့်လည်းကောင်း တင်သွင်းခွင့်ပြုရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁၇/၉၉)ကြိမ်မြောက် အစည်းအဝေးမှ ဆုံးဖြတ်ခဲ့ပါသည်။

၁၂။ ယင်းလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာပိုင်ဆိုင်ပြီး၊ နိုင်ငံခြားမှ မည်သူမျှ ပိုင်ဆိုင်မှု မရှိကြောင်း၊ မြေယာနှင့်ပတ်သက်၍ သတ်မှတ်ပြဋ္ဌာန်းမည့် စည်းကမ်းသတ်မှတ်ချက်များကို လိုက်နာမည်ဖြစ်ကြောင်း၊ ပတ်ဝန်းကျင် ညစ်ညမ်းမှု မဖြစ်ပွားစေရန် နှင့် မီးဘေးကြိုတင် ကာကွယ်မှုများ ပြုလုပ်ထားမည်ဖြစ်ကြောင်း၊ ပြည်ပမှစက်ပစ္စည်းများကို ငွေလွှဲပို့စနစ်ဖြင့် ဝယ်ယူမည်ဖြစ်ကြောင်း၊ ထွက်ကုန် ပစ္စည်းများကို ကိုယ်ပိုင်အမှတ် တံဆိပ်ဖြင့် ဖြန့်ဖြူးသွားမည်ဖြစ်ကြောင်း၊ လုပ်ငန်းအသစ်ဖြစ်ကြောင်း၊ ဝန်ခံကတိ ပြုထားပါသည်။

၁၃။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၂ နှင့် ၁၃ ပါ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရန် လျှောက်ထားလာပါသည်။ ဥပဒေပုဒ်မ ၁၂ အရ စီးပွားရေးလုပ်ငန်း စတင်သောနှစ်အပါအဝင် တစ်ဆက်တည်း (၃)နှစ် အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် ပေးရမည် ဖြစ်ပါသည်။ ဥပဒေပုဒ်မ ၁၃ အရ အခွန်ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များအနက် လုပ်ငန်းနှင့် သက်ဆိုင်သည့် အခွန်ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရန် ကော်မရှင်မှ ညှိနှိုင်း ဆုံးဖြတ်ခဲ့ ပါသည်။

၁၄။ ဆုံးဖြတ်ရန်အချက်။

(က) သီဟရာဇာ ကုမ္ပဏီ လီမိတက်မှ နိုင်ငံတကာအဆင့်မီ သန့်ရှင်းလတ်ဆတ်သော စားသုံးဆီများ ထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ရန် အဆိုပြု တင်ပြခြင်းကို ခွင့်ပြုရန် သဘောတူ–မတူ။

(ခ) လုပ်ငန်းဆောင်ရွက်ခွင့်ပြုရန် သဘောတူပါက မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၁၂ နှင့် ၁၃ ပါ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရန် သဘောတူ–မတူ။

၁၅။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် ၏ ထောက်ခံချက်။

ကုန်သွယ်မှု မူဝါဒကောင်စီ၏ ဆုံးဖြတ်ချက်ကို နာခံအပ်ပါသည်။

( ဗိုလ်မှူးချုပ် မောင်မောင် )

ဝန်ကြီး

နိုင်ငံတော်အေးချမ်းသာယာရေး နှင့် ဖွံ့ဖြိုးရေး ကောင်စီဥက္ကဋ္ဌရုံး

နှင့်

အတွင်းရေးမှူး

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်။

ကုန်သွယ်မှု မူဝါဒကောင်စီ။

ပူး တွဲ

မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၃အရ အခွန်ကင်းလွတ်ခွင့်နှင့်သက်သာခွင့်များ ရရှိရေးအတွက် လျှောက်ထားချက်အပေါ် အောက်ပါအတိုင်း သုံးသပ်တင်ပြပါသည်။

- ဥပဒေပုဒ်မ ၁၃(ဂ)အရ ကုန်ထုတ်လုပ်မှုကြောင့်ပြည်တွင်း ပြည်ပဝင်ငွေတိုးတက်မှုရှိပါကသတ်မှတ်ချက်နှင့်အညီဝင်ငွေခွန် သက်သာခွင့်ကိုလုပ်ငန်းအကောင်အထည်ဖော်မှုအရ လျှောက်ထားလာသည့်အခါစဉ်းစားခွင့်ပြုသင့်ပါသည်။
- ဥပဒေပုဒ်မ ၁၃(စ) အရ လုပ်ငန်းမှရရှိသည့်အမြတ်ငွေ ကိုတစ်နှစ်အတွင်းပြန်လည်ရင်းနှီးမြှုပ်နှံပါက ထိုအမြတ်ငွေ အပေါ်တွင်ဝင်ငွေခွန်ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်ကို အမှန်တကယ်ပြန်လည်ရင်းနှီးမြှုပ်နှံမှုပြုသည့်အခါ လျှောက်ထား လာပါကခွင့်ပြုသင့်ပါသည်။
- ဥပဒေပုဒ်မ ၁၃(ဆ)အရ လုပ်ငန်းသုံးမတည်ပစ္စည်းများ အပေါ်တန်ဘိုးလျော့ငွေကို သတ်မှတ်သည့်နှုန်းအတိုင်း နှစ်တိုတို နှင့်မူလတန်ဘိုးပြည့်မီသည်အထိအမြတ်ငွေမှနှုတ်ပယ်ခွင့်နှင့် ပတ်သက်၍ လျှောက်ထားလာသည့်အခါ ကော်မရှင်မှသတ်မှတ်သည့်နှုန်း အတိုင်းခွင့်ပြုသင့်ပါသည်။
- ဥပဒေပုဒ်မ ၁၃(ဇ)အရ ကနဦးရင်းနှီးမြှုပ်နှံမှုကာလ အတွင်းတင်သွင်းလာသည့်စက်ပစ္စည်းများအပေါ်အကောက် ခွန်နှင့်အခြားပြည်တွင်းအခွန်အကောက်များကင်းလွတ်ခွင့် ပြုသင့်ပါသည်။

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ
**အမှတ် ( ၁ ) စက်မှုဝန်ကြီးဌာန**

အမှာစာအမှတ် ၂၉/၁၀ (၁)(၁၃၀၇)/၉၉ (၆၂၇၈)

ရက်စွဲ၊ ရန်ကုန်မြို့၊ ၁၉၉၉ ခု၊ စက်တင်ဘာလ ၁၀ ရက်။

အကြောင်းအရာ။ <u>သဘောတူ မှတ်ချက် တောင်း ခံခြင်း</u>

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၉၉၉ ခုနှစ် ဩဂုတ်လ ၂၃ ရက် နေ့စွဲပါစာအမှတ်၊ ရက-၁/မ-၄၃၉/ ၉၉ (၄၁၃၇)

၁။ သီဟရာဇာကုမ္ပဏီလီမိတက်သည် ရန်ကုန်တိုင်း၊ လှိုင်သာယာစက်မှုဇုန် (၁) မြေကွက်အမှတ် ( ၁၀၊ ၁၁၊ ၁၂၊ ၁၃၊ ၁၄ ) ရှိ မြေ ( ၈.၆၁၇ ) ဧက ပေါ်တွင် စက်ရုံတည်ဆောက်ပြီး နိုင်ငံတကာအဆင့်မီ သန့်ရှင်းလတ်ဆတ်သော စားသုံးဆီထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်လိုခြင်းနှင့် ပက်သက်၍ စားသုံးဆီအဆင့်မီရန် စနစ်တကျ ထုတ်လုပ်ဆောင်ရွက်သွားမည်ဆိုပါက ကန့်ကွက်ရန်မရှိပါကြောင်း ပြန်ကြားအပ်ပါသည်။

၂။ အဆိုပါကုမ္ပဏီလီမိတက်အနေဖြင့် ပုဂ္ဂလိကစက်မှုလုပ်ငန်း ဥပဒေအရ မှတ်ပုံတင်ဆောင်ရွက်နေခြင်း မရှိသေးပါကြောင်း ဖော်ပြအပ်ပါသည်။

ဝန်ကြီး ( ကိုယ်စား )
( မြင့်ဆွေ၊ ရုံးအဖွဲ့မှူး )

<u>မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်</u>

မိတ္တူကို -
ညွှန်ကြားရေးမှူးချုပ်
စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး
မြန်မာ့ဆေးဝါးနှင့်ဓါတ်သုံးပစ္စည်းလုပ်ငန်း

ခိုင်/*၁၀၉၉၉

ပြည်ထောင်စု မြန်မာနိုင်ငံတော်အစိုးရ
ဆောက်လုပ်ရေးဝန်ကြီးဌာန
မြို့ရွာနှင့် အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန
အမှတ်၊ ၂၂၈-၂၃၄၊ ဗိုလ်ချုပ်အောင်ဆန်းလမ်း၊ ရန်ကုန်မြို့။

2/951 7.9.99 4112 8/9

စာအမှတ်၊ ဗိမံ/နအစ/ဖွေ့/၉၉/( ၆၉၉ )
ရက်စွဲ။ ၁၉၉၉ ခုနှစ်၊ စက်တင်ဘာလ ၈ ရက်

သို့
တွဲဖက်အတွင်းရေးမှူး
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

2866 10/9/99

အကြောင်းအရာ။ **သဘောထား မှတ်ချက်ပြန်ကြားခြင်း**

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၃-၈-၉၉ ရက်စွဲပါစာအမှတ်၊ ရက - ၁/မ-၄၁၉/၉၉ ( ၅၁၃၆ )

ရန်ကုန်တိုင်း၊ လှိုင်သာယာမြို့နယ်၊ စက်မှုဇုန်အပိုင်း (၁) မြေကွက်အမှတ် (၁၀၊ ၁၁၊ ၁၂၊ ၁၃၊ ၁၄) ပေါ်တွင်သီတာရာဇာကုမ္ပဏီလီမိတက် မှစားသုံးဆီထုတ်လုပ်ခြင်းလုပ်ငန်း ကိုလက်ရှိဆောင်ရွက် နေခြင်း မရှိပါကြောင်း ပြန်ကြားအပ်ပါသည်။

DDG/

8.9.99

ညွှန်ကြားရေးမှူးချုပ် (ကိုယ်စား)
(ထွန်းလင်း- ဒုတိယညွှန်ကြားရေးမှူး)
နိုင်ငံခြားဆက်ဆံရေး

မိတ္တူကို -
(၁) စီမံကိန်းမန်နေဂျာ၊ လှိုင်သာယာစက်မှုဇုန်
(၂) ရုံးလက်ခံ
(၃) မျှောစာတွဲ

7-8-99

# THIHA YARZAR COMPANY LIMITED

No. 44, 14TH STREET,
LANMADAW TOWNSHIP.
YANGON, MYANMAR

TEL : 095 -1- 227423
095 -1- 227468
FAX : 095 -1- 227252
095 -1- 227387

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့၊
ပြည်ထောင်စုမြန်မာနိုင်ငံတော်။

နေ့စွဲ၊ ။ ၁၉၉၉ ခုနှစ်၊ ဩဂုတ်လ (၁၃) ရက်။

အကြောင်းအရာ။ ။ပြည်ထောင်စုမြန်မာနိုင်ငံတော်မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ခွင့်ပြုမိန့်နှင့် မြန်မာနိုင်ငံ သားများရင်းနှီးမြှုပ်နှံမှုပုဒ်မ ၁၂ နှင့် ၁၃ တို့အရအခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့် သက်သာခွင့် များလျှောက်ထားခြင်း။

အထက်ပါအကြောင်းအရာနှင့်ပတ်သက်၍ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ ကျွန်တော်တို့၏ **Thiha Yarzar Co., Ltd.** သည် မြန်မာနိုင်ငံသို့ နိုင်ငံခြားမှစားအုန်းဆီများ မှာယူတင်သွင်းနေရမှုအစား ပြည်တွင်းထွက်မြေပဲစေ့ နှမ်းစေ့များမှ ခေတ်မီစက်ကိရိယာများအသုံးပြု၍နိုင်ငံတကာအဆင့်မီစားသုံးဆီများကို အဆီဓါတ်ပါဝင်မှုအနည်းဆုံးဖြင့်ထုတ်လုပ်ပြီး အသင့်အသုံးပြု နိုင်သော လုပ်သေသပ်သောထုတ်ပိုးမှုများဖြင့် ပြည်တွင်းဈေးကွက်တွင် ထုတ်လုပ်ရောင်းချခြင်းဖြင့် နိုင်ငံခြားသုံးငွေများ ကိုသက်သာ စေနိုင်မည့်အပြင် မြန်မာနိုင်ငံသားများအလုပ်အကိုင်ပိုမိုရရှိနိုင်မှု အခွင့်အလမ်းများကိုဖြစ်ပေါ်စေရန်ရည်ရွယ်၍ ရန်ကုန်မြို့၊ လှိုင်သာယာစက်မှုဇုန်(၁)၊ မြေကွက်အမှတ် ၁၀၊ ၁၁၊ ၁၂၊ ၁၃၊ ၁၄ ရှိ မြေအကျယ် (၈·၆၁၈) ဧက မှ မြေကွက်အမှတ် ၁၂၊ ၁၃ ရှိ မြေအကျယ် (၁·၁၉) ဧကရှိမြေနေရာ ဃယား(ကက) [redacted] အမှတ်အသားပါနေရာတွင် နိုင်ငံတကာအဆင့်မီ သန့်ရှင်းလတ်ဆတ်၍အဆီဓါတ်ပါဝင်မှုနည်းပါးသောစားသုံးဆီများထုတ်လုပ်သည့် ခေတ်မီစက်ရုံတည်ဆောက်ပြီး လုပ်ငန်းလုပ်ကိုင်ရန်ရည်ရွယ်လျက် ခေတ်မီနည်းပညာ၊ စက်ကိရိယာများဖြင့် လုပ်ငန်းလုပ်ကိုင်ခွင့်ရရှိရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ ခွင့်ပြုမိန့် လျှောက်ထားသော ကုမ္ပဏီဖြစ်ပါသည်။

ကျွန်တော်တို့၏ ကုမ္ပဏီလီမိတက်သည် နိုင်ငံတကာအဆင့်မီ သန့်ရှင်းလတ်ဆတ်၍အဆီဓါတ်ပါဝင်မှုနည်းပါးသော စားသုံးဆီများထုတ်လုပ်ရန်အတွက် လိုအပ်မည့် ကမ္ဘာ့အဆင့်အတန်းမီစက်ကိရိယာများကို ပြည်ပမှ ဝယ်ယူပြီး အရင်းအနှီး အဖြစ်ထည့်ဝင်မည်ဖြစ်ပြီး အမေရိကန်ဒေါ်လာ (၅·၈၅)သိန်းတန်ဖိုးရှိ စက်ကိရိယာပစ္စည်းများနှင့်ဆောက်လုပ်ရေးပစ္စည်းများကို တရုတ်ပြည်သူ့သမ္မတနိုင်ငံရှိ CHINA NATIONAL MACHINERY & EQUIPMENT IMPORT & EXPORT CORPORATION မှ **( Letter of Credit / Telegraphic Transfer )** စနစ်ဖြင့် ဝယ်ယူမည်ဖြစ်ပါသည်။ လိုအပ်သည့်နိုင်ငံခြားသုံးငွေကို ယခုကုမ္ပဏီ၏နိုင်ငံခြားရငွေများဖြင့် သုံးစွဲဝယ်ယူသွားပါမည်။

ကျွန်တော်တို့၏ကုမ္ပဏီလီမိတက်အနေဖြင့် ယခုအဆိုပြုလုပ်ငန်းအတွက်ရင်းနှီးငွေ စုစုပေါင်း(၁၁၁·၆)သန်း ကို မြန်မာနိုင်ငံကျပ်ငွေ၊ စက်ပစ္စည်းများ အဆောက်အအုံ၊ မြေ ကုန်ကြမ်းများဖြင့် ထည့်ဝင်ပြီး ရင်းနှီးမြှုပ်နှံကြမည်ဖြစ်ပါသည်။ ထုတ်လုပ်ဖြန့်ဖြူး ရောင်းချ ၍ရရှိလာသော အမြတ်ငွေများကိုလည်း မြန်မာနိုင်ငံတော်အတွင်းအခြားခွင့်ပြုထားသည့် စီးပွားရေးလုပ်ငန်းများတွင် ပြန်လည်ရင်းနှီးမြှုပ်နှံသွားရန် ရည်ရွယ်ပါသည်။ ထုတ်လုပ်ရရှိသော ကမ္ဘာ့အဆင့်အတန်းမီ သန့်ရှင်းလတ်ဆတ်၍အဆီဓါတ်ပါဝင်မှု နည်းပါးသောစားသုံးဆီများကို နိုင်ငံခြားမှ မှာယူတင်သွင်းနေရသောစားအုန်းဆီများ နေရာတွင် အစားထိုးရောင်းချခြင်းဖြင့် နိုင်ငံခြားသုံးငွေကို များစွာချွေတာနိုင်မည်ဖြစ်သည့်အပြင် အဆီဓါတ်ပါဝင်မှုနည်းပါးသဖြင့် စားသုံးသူပြည်သူလူထု၏ကျန်းမာရေးကိုလည်းအထောက်အကူပြုနိုင်မည်ဖြစ်ပါသည်။

၇.၈.၉၉

ပုံစံ (မနသ-၁)

မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ
ရင်းနှီးမြှုပ်နှံလိုသူ၏ အဆိုပြုချက်
( ဥပဒေပုဒ်မ ၂ ပုဒ်မခွဲ (ဂ) နှင့် ပုဒ်မ ၈ )

သို့ .

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့။

စာအမှတ်၊
ရက်စွဲ။ ။ ၁၃ - ၈ - ၉၉

ကျွန်တော်/ကျွန်မ သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ပြည်ထောင်စုမြန်မာနိုင်ငံတော် အတွင်း ရင်းနှီးမြှုပ်နှံမှု ပြုလိုပါသဖြင့် ခွင့်ပြုပါရန် အောက်ပါအချက်အလက်များကိုဖော်ပြ၍ လျှောက်ထားအပ်ပါသည်။

၁။ ရင်းနှီးမြှုပ်နှံသူ၏ –

| | | |
|---|---|---|
| (က) အမည် | – | ဦးမြင့်ဦး (ခ) ချမ်းရင်ဟုတ် |
| (ခ) အဘအမည် | – | ဦးချမ်းဆွီအိမ် |
| (ဂ) နိုင်ငံသား အမျိုးသားမှတ်ပုံတင်အမှတ် | – | 12/LaThaNa(Naing) - 001239 |
| (ဃ) နေရပ်လိပ်စာ | – | အမှတ်(၈၄)၊ ၁၈ လမ်း<br>လသာမြို့နယ်၊ ရန်ကုန်မြို့။ |
| (င) လူမျိုး / ဘာသာ | – | တရုတ် ဗုဒ္ဓဘာသာ |
| (စ) အဖွဲ့အစည်းအမည် | – | Thiha Yarzar Co., Ltd. |
| (ဆ) လုပ်ငန်းအမျိုးအစား | – | |
| (ဇ) အဖွဲ့အစည်း တည်ရှိရာအရပ် | – | အမှတ် ၃၇၊ ၁၃ လမ်း<br>လမ်းမတော်မြို့နယ်၊ ရန်ကုန်မြို့။ |

၂။ ဖက်စပ် ပြုလုပ်၍ ရင်းနှီးမြှုပ်နှံလိုပါက ဖက်စပ်ပြုလုပ်မည့်သူများ၏

| | | |
|---|---|---|
| (က) အမည် | – | |
| (ခ) အဘအမည် | – | |
| (ဂ) နိုင်ငံသား / အမျိုးသားမှတ်ပုံတင်အမှတ် | – | |
| (ဃ) နေရပ်လိပ်စာ | – | |
| (င) လူမျိုး / ဘာသာ | – | |
| (စ) အဖွဲ့အစည်းအမည် | – | |
| (ဆ) လုပ်ငန်းအမျိုးအစား | – | |
| (ဇ) အဖွဲ့အစည်း တည်ရှိရာအရပ် | – | |

၃။ ရင်းနှီးမြှုပ်နှံမှု ပြုလုပ်လိုသည့် လုပ်ငန်းအမျိုးအစား

| | | |
|---|---|---|
| (က) ကုန်ထုတ်လုပ်မှု လုပ်ငန်း | – | နိုင်ငံတကာအဆင့်မီ သန့်ရှင်းလတ်ဆတ်ပြီး အဆီဓါတ်နည်းပါးသော စားသုံးဆီထုတ်လုပ်ခြင်း လုပ်ငန်း |
| (ခ) ဝန်ဆောင်မှုလုပ်ငန်း | – | |

၄။ လုပ်ကိုင်မည့်စီးပွားရေးပုံစံ –

| | | |
|---|---|---|
| (က) နိုင်ငံသားနှင့်နိုင်ငံသားတို့က ဖက်စပ် လုပ်ကိုင်ဆောင်ရွက်ခြင်း | – | |
| (ခ) အဖွဲ့အစည်းနှင့်နိုင်ငံသားတို့က ဖက်စပ် လုပ်ကိုင်ဆောင်ရွက်ခြင်း | – | |
| (ဂ) အဖွဲ့အစည်းနှင့် အခြားအဖွဲ့အစည်းတို့ က ဖက်စပ် လုပ်ကိုင်ဆောင်ရွက်ခြင်း | – | |

၇ . ၈ . ၉၉

၅။ ဖွဲ့စည်းထားပြီးဖြစ်သည့် သို့မဟုတ်ဖွဲ့စည်းမည့် စီးပွားရေးအဖွဲ့အစည်း ပုံသဏ္ဌာန် -

(က) တစ်ဦးတည်းပိုင် -

(ခ) အစုစပ်လုပ်ငန်း -

(ဂ) လီမိတက် ကုမ္ပဏီ - **Thiha Yarzar Co., Ltd.** ( နောက်ဆက်တွဲဇယား - ၁ )

(ဃ) သမဝါယမအသင်း -

၆။ ဖက်စပ်/အစုစပ်လုပ်ငန်းဖြစ်ပါက

(က) အစုဝင်တို့ ကထည့်ဝင်မည့်အစုငွေ အမျိုးအစားနှင့်ပမာဏ -

(ခ) အကျိုးအမြတ် ခွဲဝေမည့်အမျိုးအစား -

(ဂ) အစုဝင်များ၏တာဝန်နှင့် လုပ်ပိုင်ခွင့်များ -

(နေရာမလုံလောက်ကသီးခြားစာရွက်ဖြင့်ဖော်ပြရန်)

၇။ သမဝါယမအသင်း/လီမိတက် ကုမ္ပဏီ ဖြစ်ပါက

(က) ခွင့်ပြုမတည်ငွေရင်း - ကျပ် ၁၀၀,၀၀၀,၀၀၀/ -(ကျပ်သန်းတစ်ရာတိတိ)

(ခ) အစုရှယ်ယာအမျိုးအစား - တစ်စုလျှင် ကျပ်၁,၀၀၀/ -(ကျပ်တစ်ထောင်တိတိ) တန် သာမန်အစုရှယ်ယာ ၁၀၀,၀၀၀ (တစ်သိန်း)

(ဂ) အစုရှယ်ယာရှင်များထည့်ဝင်မည့် အစုရှယ်ယာ ပမာဏ - ကျပ် ၁၁၁,၆၀၀,၀၀၀/ -(ကျပ်သိန်းတစ်ထောင့်တစ်ရာ့တစ်ဆယ့်ခြောက်တိတိ)တစ်စုလျှင် ကျပ်၁,၀၀၀/ - တန် အစုရှယ်ယာ (၁၁၆၀၀၀)သာမန်အစုရှယ်ယာ မတည်ငွေရင်းပမာဏကို တိုးမြှင့်သွားပါမည်။

၈။ ရင်းနှီးမြှုပ်နှံမှုပြု လုပ်သည့်အဖွဲ့အစည်းနှင့်သက်ဆိုင်သောအချက်အလက်များ-

(က) မတည်ငွေရင်းပမာဏ (ယခုအဆိုပြုလုပ်ငန်းအတွက်)

| | | ကျပ် |
|---|---|---|
| (၁) ငွေပမာဏ | | ၁၆,၀၀၆,၀၀၀ |
| (၂) ကုန်ကြမ်းပစ္စည်းများ | (နောက်ဆက်တွဲဇယား - ၄-က ) | ၅၂,၀၀၀,၀၀၀ |
| (၃) အဆောက်အဦး | (နောက်ဆက်တွဲဇယား-၂) | ၂၀,၄၆၄,၀၀၀ |
| (၄) မြေ | | ၁၀,၀၀၀,၀၀၀ |
| (၅) စက်ပစ္စည်းကိရိယာများ | (နောက်ဆက်တွဲဇယား - ၃ ) | ၁,၈၁၄,၀၀၀ |
| (၆) ဆောက်လုပ်ရေးပစ္စည်းများ | (နောက်ဆက်တွဲဇယား - ၃ ) | ၁,၅၁၆,၀၀၀ |
| စုစုပေါင်းထည့်ဝင်ရင်းနှီးငွေ | | ၁၁၁,၆၀၀,၀၀၀ |

စက်ပစ္စည်းကိရိယာများနှင့်ဆောက်လုပ်ရေးပစ္စည်းများ ကို Thiha Yarzar Co., Ltd. သည် တရုတ်ပြည်သူ့သမ္မတနိုင်ငံရှိ China National Machinery & Equipment Import & Export Corporation မှ ငွေလွှဲပို့ခြင်းစနစ် ( Letter of Credit / Telegraphic Transfer) ဖြင့် ဝယ်ယူမည်ဖြစ်ပါသည်။

| (ခ) နိုင်ငံခြားမှတင်သွင်းရန် လိုအပ်သည့် | ကျပ် | အမေရိကန်ဒေါ်လာ |
|---|---|---|
| (၁) စက်ပစ္စည်းများ၊စက်ကိရိယာများ၏တန်ဖိုး | ၁,၈၁၄,၀၀၀ | ၃၁၈,၀၀၀ |
| (၂) ဆောက်လုပ်ရေးပစ္စည်းများ | ၁,၅၁၆,၀၀၀ | ၂၅၆,၀၀၀ |
| (၃) ကျွမ်းကျင်မှုနည်းပညာရပ်များ၏တန်ဖိုးပမာဏ | | |
| | ၃,၄၅၀,၀၀၀ | ၅၅၅,၀၀၀ |

(ဂ) တည်ဆောက်မှုကာလ (၁၁) လ

(ဃ) ပဏာမစုးစမ်းလေ့လာမှု ပြုလုပ်မည့်ကာလ (၁) လ

(င) တည်ဆောက်မှု စတင်မည့်အချိန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှခွင့်ပြုမိန့် ရရှိသည့်နေ့မှ စတင်ဆောင်ရွက်သွားမည်။

၉။ ဆောင်ရွက်မည့်စီးပွားရေးအဖွဲ့ အစည်းနှင့် သက်ဆိုင်သော အချက်အလက်များ-

(က) လုပ်ငန်းအမျိုးအစား - နိုင်ငံတကာအဆင့်မီ သန့်ရှင်းလတ်ဆတ်သော စားသုံးဆီများထုတ်လုပ်ခြင်း။

(ခ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့်ဒေသများ - မြေကွက်အမှတ် ၁၂၁၃ လှိုင်သာယာစက်မှုဇုန်(၁)၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်မြို့။

(ဂ) ဆောင်ရွက်မည့်ပုံ နည်းစနစ် - ခေတ်မီ ထုတ်လုပ်မှုစံနစ်

(ဃ) နှစ်စဉ်စက်သုံးဆီလိုအပ်ချက် -

၁။ ဒီဇယ်ဆီ - ဂါလန် (၁၅၀၀၀)

၂။ ဓါတ်ဆီ - ဂါလန် (၄၀၀၀)

၃။ စက်ဆီ၊ချောဆီ - ဂါလန် (၅၀၀)

(င) နှစ်စဉ် လျှပ်စစ်ဓါတ်အားလိုအပ်ချက် -

၁။ လျှပ်စစ်ဓါတ်အား - ၁၅၀ ကီလိုဝပ်

၂။ ဒီဇယ်ဆီ အင်ဂျင်စက်အင်အား - (၁၅၀)

၃။ ဘွိုင်လာအသုံးပြုအင်ဂျင်စက်အား - ၁၅၀ ကီလိုဝပ်

၄။ သဘာဝဓါတ်ငွေ့ သုံးစက်အား -

၅။ ပေးပို့ သည့်အခြားအား -
(ရေအား / လေအားစသည်များ)

(စ) နှစ်စဉ် ရေလိုအပ်ချက် -

၁။ တစ်နေ့ ရေလိုအပ်ချက် - ဂါလန် (၁၅၀၀)

၂။ တစ်နှစ် ရေလိုအပ်ချက် - ဂါလန် (၄၅၀၀၀၀)

(ဆ) နှစ်စဉ်လုပ်ငန်းသုံးပစ္စည်း/ကုန်ကြမ်းလိုအပ်ချက် - နောက်ဆက်တွဲ ဇယား - ၄

(ဇ) အဆောက်အဦးလိုအပ်ချက် - (၂၄၀'×၂၄၀') အဆောက်အဦး (၁)လုံး

(ဈ) မြေနေရာအမျိုးအစားနှင့်အကျယ်အဝန်းလိုအပ်ချက် - ပုဂ္ဂလိကပိုင်စက်မှုမြေ (၈·၆၁၇) ဧက မှ စက်မှုမြေ (၁·၁၉) ဧက

(ည) ခန့်မှန်းထုတ်လုပ်မည့်ကုန်ပစ္စည်း / ဝန်ဆောင်မှု - နောက်ဆက်တွဲဇယား - ၅

(ဋ) ရောင်းချမည့်နည်းစနစ် - ပြည်တွင်းကျပ်ငွေဖြင့်ရောင်းချခြင်း - ၁၀၀%

2-8-99

THIHA YARZAR COMPANY LIMITED.

# LIST OF MACHINERY AND EQUIPMENT

To be Imported by Letter of Credit / Telegraphic Transfer — Exhibit No. III

| SR. NO. | PARTICULARS | A/U | QTY | RATE IN US$ | AMOUNT IN US$ |
|---|---|---|---|---|---|
| 1 | Feeder | Set | 1 | 1000 | 1,000 |
| 2 | Disk Peeler | Set | 1 | 4500 | 4,500 |
| 3 | Beating Screen | Set | 1 | 2900 | 2,900 |
| 4 | Flaking Roll | Set | 1 | 11450 | 11,450 |
| 5 | Plate Press Filter | Set | 2 | 2250 | 4,500 |
| 6 | Oil Pump | Set | 4 | 900 | 3,600 |
| 7 | Screw Oil Press ( for Ground Nut Oil ) | Set | 6 | 8150 | 48,900 |
| 8 | Screw Oil Press ( for Sesame Oil ) | Set | 2 | 15900 | 31,800 |
| 9 | Vertical Steaming Y Stir-Flying Cauldron | Set | 1 | 15000 | 15,000 |
| 10 | Refining Tank | No | 2 | 2600 | 5,200 |
| 11 | Screw Conveyor LS-25 4M | Set | 1 | 780 | 780 |
| 12 | Screw Conveyor LS-25 5M | Set | 1 | 870 | 870 |
| 13 | Screw Conveyor LS-22 12M | Set | 2 | 1500 | 3,000 |
| 14 | Screw Conveyor LS-22 13M | Set | 1 | 1400 | 1,400 |
| 15 | Bucket Elevator ( Single Chain ) | Set | 4 | 1600 | 6,400 |
| 16 | Bucket Elevator ( Double Chain ) | Set | 1 | 1600 | 1,600 |
| 17 | Boiler | No | 1 | 41600 | 41,600 |
| 18 | Electric Control Equipment | Set | 1 | 22000 | 22,000 |
| 19 | Packaging Machine | Set | 1 | 32000 | 32,000 |
| 20 | Saloon | Nos | 1 | 21000 | 21,000 |
| 21 | Wagon | Nos | 1 | 23000 | 23,000 |
| 22 | Truck ( 2 or 2.5 Tons ) | Nos | 1 | 15000 | 15,000 |
| 23 | Mini Bus | Nos | 1 | 18000 | 18,000 |
| 24 | Computer | Set | 1 | 2000 | 2,000 |
| 25 | Photo Copying Machine | Set | 1 | 1500 | 1,500 |
| | | | | Total | 319,000 |
| | **Construction Materials** | | | | |
| 1 | Cement | Ton | 800 | 70 | 56,000 |
| 2 | M.S Rod ( Various Size ) | Ton | 500 | 400 | 200,000 |
| | | | | | 0 |
| | | | | | 256,000 |
| | | **Grand Total in US$** | | | 575,000 |
| | | Equivalent in Kyats | | | 3,450,000 |

Note: - (1) Exchange Rate 1 US$ = Kyats 6.00

မှတ်ချက်။ ။ စက်ပစ္စည်းများနှင့်ဆောက်လုပ်ရေးကုန်ကြမ်းပစ္စည်းများကို မိမိ၏ ကိုယ်ပိုင်နိုင်ငံခြားငွေများဖြင့် ဝယ်ယူပါမည်။

2.8.99

## VALUE OF RAW MATERIALS

To be investment — Exhibit No. IV (A)

| SR. NO. | Particulars | A/U | Qty | Price | (000) Amount |
|---|---|---|---|---|---|
| A | **Local Purchase** | | | | |
| 1 | Ground Nut | Ton | 241.9 | Ks. 153000 | 37,010 |
| 2 | Sesame | Ton | 154.8 | Ks. 102000 | 15,790 |
| | | | **Total Kyats** | | 52,800 |

2.8.99

## LIST OF PERSONNEL REQUIREMENT

Exhibit No VII

| Sr. No. | Description | No. of Requirement |
|---|---|---|
| A | LOCAL PERSONNEL | |
| 1 | General Manager | 1 |
| 2 | Administrative Manager | 1 |
| 3 | Financial Manager | 1 |
| 4 | Marketing Manager | 2 |
| 5 | Factory Manager | 1 |
| 6 | Office Staff | 6 |
| 7 | Engineer | 2 |
| 8 | Technician | 2 |
| 9 | Production Supervisor | 4 |
| 10 | Quality Control. | 4 |
| 11 | Skill Workers | 10 |
| 12 | Semi - skilled Workers | 10 |
| 13 | Un skilled Workers | 20 |
| 14 | Driver | 6 |
| 15 | Guard Man | 4 |
| | | 74 |
| | FOREIGN PERSONNEL | |
| 1 | Engineer | 2 |
| 2 | Production Supervisor / Manager | 2 |
| | | 4 |
| | TOTAL | 78 |

2-8-99

# PARTICULAR RELATING TO ECONOMIC JUSTIFICATION

PROFIT & LOST BUDGET IN THOUSAND (000) Exhibit No. VIII

| SR. NO. | | PARTICULARS | YEAR 1 KYAT | YEAR 2 KYAT | YEAR 3 KYAT | YEAR 4 KYAT | YEAR 5 - 10 KYAT |
|---|---|---|---|---|---|---|---|
| 1. | | SALE INCOMES | | | | | |
| | 1 | Kyat Sales | 854600 | 878680 | 899380 | 920300 | 941440 |
| | | Sub -- Total | 854600 | 878680 | 899380 | 920300 | 941440 |
| 2 | | COST OF PRODUCTS | | | | | |
| | 1 | Raw Material in Kyat | 790500 | 809350 | 828400 | 847650 | 867100 |
| | 2 | Production Overhead Cost | 7500 | 7600 | 7700 | 7800 | 7900 |
| | | Sub -- Total | 798000 | 816950 | 836100 | 855450 | 875000 |
| | | Gross -- Profit | 56600 | 61730 | 63280 | 64850 | 66440 |
| 3 | | EXPENDITURES | | | | | |
| | 1 | Salary & Wages | 9550 | 9600 | 9650 | 9700 | 9750 |
| | 2 | Electricity & Power | 9100 | 9150 | 9200 | 9250 | 9300 |
| | 3 | Selling Expenses | 4500 | 4550 | 4600 | 4650 | 4700 |
| | 4 | Administration Expenses | 5500 | 5550 | 5600 | 5650 | 5700 |
| | 5 | Other Expenditures | 4400 | 4450 | 4500 | 4550 | 4600 |
| | 6 | Transportation Exp | 2400 | 2450 | 2500 | 2550 | 2600 |
| | 7 | Depreciation | 3191 | 3191 | 3191 | 3191 | 3191 |
| | | Sub -- Total | 38641 | 38941 | 39241 | 39541 | 39841 |
| | | Net -- Profit | 17959 | 22789 | 24039 | 25309 | 26599 |
| 4 | | Income Tax | | | | 7593 | 7980 |
| 5 | | TOTAL NET PROFIT | 17959 | 22789 | 24039 | 17716 | 18619 |
| 6 | | Commercial Tax | 0 | 0 | 0 | 0 | 0 |

Note (1) Exchange Rate 1 US$ = Kyat 6.00

(2) Income Tax is calculated at rate of 30% for Kyat Sale Income.

2.8.99

**THIHA YARZAR COMPANY LIMITED**

No. 44, 14TH STREET,
LANMADAW TOWNSHIP,
YANGON, MYANMAR

TEL : 095 -1- 227423
095 -1- 227468
FAX : 095 -1- 227252
095 -1- 227387

## ဒါရိုက်တာအဖွဲ့အစည်းအဝေးမှတ်တမ်း

ကျင်းပသည့်နေ့ ။ ၁-၉-၉၉
ကျင်းပသည့်အချိန် ။ နံနက် (၁၀း၃၀) နာရီ
ကျင်းပသည့်နေရာ ။ ကုမ္ပဏီ ရုံးခန်း

| တက်ရောက်သူများ | ရာထူး | လက်မှတ် |
|---|---|---|
| ၁။ ဦးမြင့်ဦး(ခ)ချန်ရင်ဟုတ် | အုပ်ချုပ်မှုဒါရိုက်တာ | |
| ၂။ ဒေါ်ငွေစော | ဒါရိုက်တာ | |
| ၃။ ဒေါ်လေးလွင်(ခ)ချန်ရှုကျင် | ဒါရိုက်တာ | |
| ၄။ ဒေါ်မြမြနွဲ့ | ဒါရိုက်တာ | |
| ၅။ ဦးမြင့်ဦး | ဒါရိုက်တာ | |
| ၆။ ဒေါ်ဝိုင်းဝိုင်းနွဲ့ | ဒါရိုက်တာ | |

## အစည်းအဝေးဆုံးဖြတ်ချက်များ

- ကုမ္ပဏီ၏အုပ်ချုပ်မှုဒါရိုက်တာဖြစ်သူ ဦးမြင့်ဦးမှ အစည်းအဝေး၏သဘာပတိအဖြစ်ဆောင်ရွက်ပြီးယခုလုပ်ငန်းသစ်လုပ်ကိုင်ရန်အတွက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုလွှာတစ်စောင်တင်သွင်းရန်ရှိကြောင်း ယင်းလုပ်ငန်းမှာ နိုင်ငံတကာအဆင့်မီ သန့်ရှင်းလတ်ဆတ်၍ အဆီဓါတ်ပါဝင်မှုနည်းပါးသောစားသုံးဆီများထုတ်လုပ်ခြင်းလုပ်ငန်းဖြစ်ကြောင်း၊ ယင်းလုပ်ငန်းအတွက် ကုမ္ပဏီပိုင် မြေကွက်ဖြစ်သော ရန်ကုန်တိုင်း၊ လှိုင်သာယာစက်မှုဇုန်(၁)ရှိ မြေကွက်အမှတ် ၁၂၊ ၁၃ တွင်လုပ်ငန်းလုပ်ကိုင်မည်ဖြစ်ရာ ယင်းသို့လုပ်ငန်းလုပ်ကိုင်ခြင်းကို ကန့်ကွက်ရန်ရှိ မရှိ မေးမြန်းရာ ဒါရိုက်တာအဖွဲ့ဝင်အားလုံးမှ သဘောတူအတည်ပြုဖြစ်ကြောင်းဆုံးဖြတ်ကြပါသည်။

- ထို့ပြင် ယင်းမြေ၏တန်ဖိုးကို ၁၀ သန်း သတ်မှတ်၍ လုပ်ငန်းတွင် ရင်းနှီးငွေအဖြစ်ထည့်ဝင်တွက်ချက်ခြင်းကိုလည်း ကန့်ကွက်ရန်မရှိကြောင်း သဘောတူဆုံးဖြတ်ကြပါသည်။

- အထက်ပါဆုံးဖြတ်ခဲ့သော အချက်အား ကန့်ကွက်ရန်မရှိကြောင်း လက်မှတ်ရေးထိုး၍ အစည်းအဝေးအား နံနက် ၁၁ : ၃၀ နာရီ တွင် ရပ်နားလိုက်ပါသည်။

မှတ်တမ်းတင်သူ

( ဦး မြင့် ဦး )
အုပ်ချုပ်မှုဒါရိုက်တာ
Thiha Yarzar Company Limited

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
၆၅၃ / ၆၉၁၊ ကုန်သည်လမ်း၊ ရန်ကုန်မြို့။

Fax: 095-01-282101

တယ်လီဖုန်း - ၂၇၂၉၁၂၊ ၂၇၂၇၁၉၊ ၂၇၂၄၉၁။

စာအမှတ်၊ ရကက-၁/မ-၄၃၈/၉၉(၄၅၃၆)၊
ရက်စွဲ၊ ၁၉၉၉ ခုနှစ်၊ ဩဂုတ်လ ရက်။

အကြောင်းအရာ။ ။ <u>သဘောထားမှတ်ချက် တောင်းခံခြင်းကိစ္စ ။</u>

ရည်ညွှန်းချက်။ ။ သီဟရာဇာကုမ္ပဏီလီမိတက်၏ (၁၃.၇.၉၉) နေ့စွဲပါစာ။

၁။ သီဟရာဇာကုမ္ပဏီလီမိတက်သည် ရန်ကုန်တိုင်း၊ လှိုင်သာယာစက်မှုဇုန်(၁)၊ မြေကွက်အမှတ်၊ ၁၀၊ ၁၁၊ ၁၂၊ ၁၃၊ ၁၄ ရှိ မြေအကျယ်(၈.၆၁၇) ဧကမှ (၁.၁၉) ဧကရှိ မြေပေါ်တွင် စက်ရုံတည်ဆောက်ပြီး၊ နိုင်ငံတကာအဆင့်မီ သန့်ရှင်းလတ်ဆတ်သော စားသုံးဆီများထုတ်လုပ်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အထက်ရည်ညွှန်းပါစာဖြင့် ဤကော်မရှင်သို့ တင်ပြလျှောက်ထားလာပါသည်။ (<u>ပူးတွဲ</u>)

၂။ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေဆိုင်ရာလုပ်ထုံးလုပ်နည်းများအခန်း(၃)၊ အပိုဒ်၁၁ ပါ ပြဋ္ဌာန်းချက်နှင့်အညီ အဆိုပြုချက်ကို စိစစ်ရာတွင် သက်ဆိုင်ရာအဖွဲ့အစည်းများ၏ သဘောထားများကို တောင်းခံရယူရန်လိုအပ်ပါသဖြင့် အဆိုပြုချက်ပါလုပ်ငန်းဆောင်ရွက်မည့်မြေနေရာနှင့်စပ်လျဉ်း၍ သဘောထားမှတ်ချက် ပြန်ကြားပေးပါရန်နှင့် ယင်းမြေနေရာတွင် အဆိုပြုလုပ်ငန်းဆောင်ရွက်နေခြင်းရှိ-မရှိ ပြန်ကြားပေးပါရန် ဤရုံး မေတ္တာရပ်ခံအပ်ပါသည်။

ပူးတွဲ (၁) အဆိုပြုချက်၊
(၂) မြေအယောက်အယား။

တွဲဖက်အတွင်းရေးမှူး(ကိုယ်စား)
[ စိုးစိုးဝင်း ၊ ညွှန်ကြားရေးမှူး ]

<u>ညွှန်ကြားရေးမှူးချုပ်၊</u>
<u>မြို့ပြနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန။</u>

မိနိ ၁၉-၈-၉၉။

10. 11. ၉၉ Cabinet [illegible]

ပြည်ထောင်စု မြန်မာနိုင်ငံတော် အတွင်း မြန်မာနိုင်ငံသားများ
ရင်းနှီးမြှုပ်နှံမှုပြုလုပ်ရန် ရင်းနှီးမြှုပ်နှံလိုသူ ၏ ဆောင်ရွက်ရန်

# အဆိုပြုချက်

သီ ဟ ရာ ဇာ ကုမ္ပဏီ လီမိတက်

▲▲▲▲▲▲▲▲▲▲▲▲▲

# PROPOSAL OF THE INVESTOR TO MAKE MYANMAR CITIZENS INVESTMENT IN THE UNION OF MYANMAR

**THIHA YARZAR COMPANY LIMITED**

**THIHA YARZAR COMPANY LIMITED**

No. 44, 14TH STREET,
LANMADAW TOWNSHIP,
YANGON, MYANMAR

TEL : 095 -1- 227423
095 -1- 227468
FAX : 095 -1- 227252
095 -1- 227387

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီး မြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့။
ပြည်ထောင်စုမြန်မာနိုင်ငံတော်။

နေ့စွဲ။ ။ ၁၉၉၉ ခုနှစ်၊ နိုဝင်ဘာလ (၄) ရက်

**အကြောင်းအရာ။ ။<u>မြန်မာနိုင်ငံ ရင်းနှီး မြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုချက်များ ပေးပို့ခြင်း။</u>**

အထက်ပါအကြောင်းအရာနှင့်ပတ်သက်၍ ကျွန်တော်တို့၏ **Thiha Yarzar Co., Ltd.** သည်ပြည်ထောင်စုမြန်မာနိုင်ငံတော်တွင် နိုင်ငံတကာအဆင့်မီသန့်ရှင်းလတ်ဆတ်၍အဆီဓါတ်ပါဝင်မှုနည်းပါးသောစားသုံးဆီများ ထုတ်လုပ်သည့်စက်ရုံ တည်ဆောက်ပြီး လုပ်ငန်းလုပ်ကိုင်နိုင်ရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ ခွင့်ပြုမိန့်လျှောက်ထားသောကုမ္ပဏီ ဖြစ်ပါသည်။

ထိုသို့တင်ပြလျှောက်ထားရာတွင် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်အစည်းအဝေးမှ ဆုံးဖြတ်ချက်အရ ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရအဖွဲ့အစည်းအဝေးသို့ဆက်လက်တင်ပြ ခွင့်ပြုချက်ရယူနိုင်ရန်အတွက် ကျွန်တော်တို့ကုမ္ပဏီ၏ အဆိုပြုလွှာ (၂)စုံကိုပေးပို့တင်ပြအပ်ပါသည်။

ရိုသေလေးစားစွာဖြင့်

ချန်ရင်ဟုတ်(ခ)ဦးမြင့်ဦး
( အုပ်ချုပ်မှုဒါရိုက်တာ )
**Thiha Yarzar Company Limited.**

# THIHA YARZAR COMPANY LIMITED

No. 44, 14TH STREET,
LANMADAW TOWNSHIP.
YANGON, MYANMAR

TEL : 095 -1- 227423
095 -1- 227468
FAX : 095 -1- 227252
095 -1- 227387

---

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီး မြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့။
ပြည်ထောင်စုမြန်မာနိုင်ငံတော်။

နေ့စွဲ။ ။ ၁၉၉၉ ခုနှစ်၊ အောက်တိုဘာလ ( ၄ ) ရက်

**အကြောင်းအရာ။** **။<u>မြန်မာနိုင်ငံ ရင်းနှီး မြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုချက်များ ပေးပို့ခြင်း။</u>**

အထက်ပါအကြောင်းအရာနှင့်ပတ်သက်၍ ကျွန်တော်တို့၏ **Thiha Yarzar Co., Ltd.** သည်ပြည်ထောင်စုမြန်မာနိုင်ငံတော်တွင် နိုင်ငံတကာအဆင့်မီသန့်ရှင်းလတ်ဆတ်၍အဆီဓါတ်ပါဝင်မှုနည်းပါးသောစားသုံးဆီများ ထုတ်လုပ်သည့်စက်ရုံ တည်ဆောက်ပြီး လုပ်ငန်းလုပ်ကိုင်နိုင်ရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ ခွင့်ပြုမိန့်လျှောက်ထားသောကုမ္ပဏီ ဖြစ်ပါသည်။

ထိုသို့ တင်ပြလျှောက်ထားရာတွင် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်အစည်းအဝေးမှ ဆုံးဖြတ်ချက်အရ ဆက်လက်တင်ပြ ခွင့်ပြုချက်ရယူနိုင်ရန်အတွက် ကျွန်တော်တို့ကုမ္ပဏီ၏ အဆိုပြုလွှာ (၁၂)စုံ ကိုပေးပို့တင်ပြအပ်ပါသည်။

ရိုသေလေးစားစွာဖြင့်

ချန်ရင်ဟုတ်(ခ)ဦးမြင့်ဦး
( အုပ်ချုပ်မှုဒါရိုက်တာ )
**Thiha Yarzar Company Limited.**

# THIHA YARZAR COMPANY LIMITED

No. 44, 14TH STREET,
LANMADAW TOWNSHIP,
YANGON, MYANMAR

TEL : 095 -1- 227423
095 -1- 227468
FAX : 095 -1- 227252
095 -1- 227387

---

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့။
ပြည်ထောင်စုမြန်မာနိုင်ငံတော်။

နေ့စွဲ။ ။ ၁၉၉၉ ခုနှစ်၊ စက်တင်ဘာလ (၁၀) ရက်

**အကြောင်းအရာ။ ။ <u>မြန်မာနိုင်ငံ ရင်းနှီး မြှုပ်နှံမှုကော်မရှင်သို့ အဆို ပြုချက်များ ပေးပို့ ခြင်း။</u>**

အထက်ပါအကြောင်းအရာနှင့်ပတ်သက်၍ ကျွန်တော်တို့၏ Thiha Yarzar Co., Ltd. သည်ပြည်ထောင်စုမြန်မာနိုင်ငံတော်တွင် နိုင်ငံတကာအဆင့်မီသန့်ရှင်းလတ်ဆတ်၍အဆီဓါတ်ပါဝင်မှုနည်းပါးသောစားသုံးဆီများ ထုတ်လုပ်သည့်စက်ရုံ တည်ဆောက်ပြီး လုပ်ငန်းလုပ်ကိုင်နိုင်ရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ ခွင့်ပြုမိန့်လျှောက်ထားသောကုမ္ပဏီ ဖြစ်ပါသည်။

အကြိုစိစစ်ရန် တင်ပြထားသော အဆိုပြုချက်မှ ပြန်လည်ပြင်ဆင်ညှိနှိုင်းရန်ရှိသော အချက်များကို ပြန်လည်ပြင်ဆင်မှုများ ပြုလုပ်ထားပြီးဖြစ်ပါ၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ လိုအပ်သလိုဆက်လက်စိစစ်ဆောင်ရွက်ရန်အတွက် ကျွန်တော်တို့၏ ကုမ္ပဏီ အဆိုပြုလွှာ (၁၂) စုံကို ပေးပို့တင်ပြအပ်ပါသည်။

ရိုသေလေးစားစွာဖြင့်

ချမ်းရင်ဟုတ်(ခ)ဦးမြင့်ဦး
( အုပ်ချုပ်မှုဒါရိုက်တာ )
**Thiha Yarzar Company Limited.**

# THIHA YARZAR COMPANY LIMITED

No. 44, 14TH STREET,
LANMADAW TOWNSHIP,
YANGON, MYANMAR

TEL : 095 -1- 227423
095 -1- 227468
FAX : 095 -1- 227252
095 -1- 227387

---

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီး မြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့။
ပြည်ထောင်စုမြန်မာနိုင်ငံတော်။

နေ့စွဲ။ ၁၉၉၉ ခုနှစ်၊ ဩဂုတ်လ (၁၃) ရက်

**အကြောင်းအရာ။** **။<u>မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုချက်များ အကြိုစိစစ်ပေးနိုင် ရန် ပေးပို့ ခြင်း။</u>**

အထက်ပါအကြောင်းအရာနှင့်ပတ်သက်၍ ကျွန်ုပ်တို့၏ Thiha Yarzar Co., Ltd. အနေဖြင့် ပြည်ထောင်စုမြန်မာနိုင်ငံတော်တွင် နိုင်ငံတကာအဆင့်မီ သန့်ရှင်းလတ်ဆတ်၍အဆီဓါတ်ပါဝင်မှုနည်းပါးသောစားသုံးဆီများ ထုတ်လုပ်သည့် စက်ရုံတည်ဆောက်ပြီး လုပ်ငန်းလုပ်ကိုင်နိုင်ရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့် အညီခွင့်ပြုမိန့် လျှောက်ထားသော ကုမ္ပဏီ ဖြစ်ပါသည်။

သို့ဖြစ်ပါ၍ကျွန်ုပ်တို့၏အဆိုပြုလွှာကို လိုအပ်သလို စိစစ်ပေးနိုင်ရန်အတွက် အဆိုပြုလွှာ (၆) စုံ ကို ပေးပို့တင်ပြအပ်ပါသည်။

ရိုသေလေးစားစွာဖြင့်

ချုန်ရင်ဟာတ်(ခ)ဦးမြင့်ဦး
( အုပ်ချုပ်မှုဒါရိုက်တာ )
**Thiha Yarzar Company Limited.**

